# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၂၄၄/၉၉ ၁၉၉၉ ခုနှစ်၊ ဧပြီ လ ၂၇ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၁ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးဇော်ဝင်း

(ခ) အဘအမည် ဦးအေးမောင်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/စခန(နိုင်)၀၁၅၇၅၂၃

(ဃ) နေရပ်လိပ်စာ အမှတ်-၁၂၊ ဝမ်းကျန်းလမ်း၊ မြေနီကုန်း စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း မြန်ဘစ်(စ်)ကိုဖု(ဒ်) အင်ဒတ်(စ်)ထရီးကုမ္ပဏီလီမိတက်(Myanbisco Food Industries Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ဘီစကွတ်မုန့်များ ထုတ်လုပ်ခြင်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၁)၊ မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊ မြေကွက်အမှတ်(၁၀၉၊၁၁၀)

(ဇ) မတည်ရင်းနှီးငွေ(ကျပ်) ၅၉.၁၇သန်း (ကျပ်ငါးဆယ့်ကိုးသန်း၊ တစ်သိန်း၊ ခုနစ်သောင်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၃၄ /၉၉ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၁ ခုနှစ်၊ ကဆုန်လဆန်း ၁ ၃ ရက်။
(၁၉၉၉ ခုနှစ်၊ ဧပြီလ ၂၇ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီ လီမိတက် (Myanbisco Food Industries Co., Ltd.) မှ ကုမ္ပဏီအမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာနပိုင် ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃) မြေတိုင်းရပ်ကွက်အမှတ်(၆၄)၊ မြေကွက်အမှတ်(၁၀၉၊၁၁၀) ရှိမြေ (၃.၅၆၆)ဧက (၁၄၄၃၁.၁၀ စတုရန်းမီတာ) ပေါ်တွင် စက်ရုံတည်ဆောက်ပြီး ဘီစကွတ်မုန့်များ ထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၆-၃-၉၉)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၆/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး၊ အစိုးရအဖွဲ့သို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ(၂၂-၄-၉၉)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၁၄/၉၉) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီ လီမိတက် (Myanbisco Food Industries Co., Ltd.)အား ဘီစကွတ်မုန့်များ ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက်ခွင့်ပြုမိန့် အမှတ်၊ မနသ-၂၄၄/၉၉ ကို ထုတ်ပေး လိုက်သည်။

၂။ မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီ လီမိတက် (Myanbisco Food Industries Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှုလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက် တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များ နှင့် အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့် များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလ အတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့်ပမာဏကိုဖော်ပြလျက် လုပ်ငန်း အကောင်အထည် ဖော်မှု အခြေအနေပေါ်မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ခ) အရ လုပ်ငန်းက နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်းမှ နိုင်ငံခြားငွေဖြင့် ရရှိသည့် အမြတ်ငွေအပေါ်တွင် (၅၀) ရာခိုင်နှုန်းအထိ ကာလအကန့်အသတ်ဖြင့် ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၃)နှစ် ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည် ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေ ပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ပြည်ပ ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့် အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့်အခါ လုပ်ငန်း အကောင်အထည် ဖော်ဆောင်ရွက်နိုင်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေ ပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင် အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(င) ဥပဒေ ပုဒ်မ ၁၃(ဆ) အရ လုပ်ငန်းသုံးမတည်ပစ္စည်းများအပေါ် တန်ဖိုးလျော့ငွေကို သတ်မှတ် သည့် နှုန်းအတိုင်း နှစ်တိုတို နှင့် မူလတန်ဖိုး ပြည့်မီသည်အထိ အမြတ်ငွေမှ နုတ်ပယ်ခွင့် နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြ လျှောက်ထားရမည်။

(စ) ဥပဒေ ပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန် တကယ် လိုအပ်၍ ပြည်ပမှတင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန် အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(ဆ) ဥပဒေ ပုဒ်မ ၁၃(ဈ) အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃) နှစ်အတွက် ကုန်ထုတ်လုပ်ရန် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ အပေါ်တွင် အကောက်ခွန် နှင့် အခြား ပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့် ပြုသည်။

(ဇ) ဥပဒေ ပုဒ်မ ၁၃(ည) အရ ထုတ်လုပ်မည့် ကုန်ပစ္စည်းများကို ပြည်ပသို့ တင်ပို့ရောင်းချမှု အပေါ် ကုန်သွယ်လုပ်ငန်းခွန် ကင်းလွတ်ခွင့်ပြုသည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ)နှင့် (ဈ)အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက် ရမည်။

(က) ပြည်ပမှ တင်သွင်းမည့် ပစ္စည်းများအတွက် နိုင်ငံခြားငွေ ရရှိပုံနည်းလမ်း (Source of Payments for Import) ဥပမာ – ပြည်ပတင်ပို့မှု မှ ဝင်ငွေ၊ ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System) ရွှေ့ဆိုင်း ငွေပေးချေမှု စံနစ် (Deferred Payment System) စသည် တို့ကိုဖော်ပြရန်။

(ခ) တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရန်။

(ဂ) စစ်ဆေးရေး ကိုယ်စားလှယ်၏ စစ်ဆေးပြီးကြောင်း အထောက်အထား (Inspection Certificate) ဖြင့် တင်သွင်းမည့် ပစ္စည်းအမျိုးအစား စာရင်း (Invoice and Packing List) များကို နိုင်ငံခြား မတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေးအဖွဲ့ငယ်သို့ တင်ပြ၍ ထောက်ခံချက် ရယူရန်။

၄။ မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီ လီမိတက် (Myanbisco Food Industries Co., Ltd.) သည် လုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ဝယ်ယူတင်သွင်းပြီး၊ ပြန်လည် ပေးဆပ်သည့်အခါ အဆိုပြုလုပ်ငန်းမှ ရရှိသည့် တရားဝင် နိုင်ငံခြားငွေဖြင့်သာ ပေးဆပ်ရမည်။

၅။ အဆိုပြုလုပ်ငန်းအတွက် ပြည်ပမှ စက်ပစ္စည်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများနှင့် ကုန်ကြမ်းများကို ပြည်ပချေးငွေ (Loan and Credits)၊ ကုန်ပစ္စည်း ပြန်လည် ဝယ်ယူသည့်စံနစ် (Buy-back System)၊ ရွှေ့ဆိုင်း ငွေပေးချေစံနစ် (Deferred Payment System) စသည်တို့ဖြင့် ရယူဆောင်ရွက် ခြင်းသည် နိုင်ငံတော်နှင့် သက်ဆိုင်ခြင်းမရှိပဲ ချေးငွေပေးသူနှင့်ယူသူတို့၏ တာဝန်သာဖြစ်စေရမည်။

၆။ အဆိုပြုချက်နှင့်အတူ ပူးတွဲတင်ပြသည့် သက်ဆိုင်ရာ စာချုပ်စာတမ်းများကို တည်ဆဲဥပဒေများနှင့် အညီ ကုမ္ပဏီအား တရားဝင် ဖွဲ့စည်းတည်ထောင်ပြီးမှသာ နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုး ချုပ်ဆိုကြရမည်။

၇။ မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီ လီမိတက် (Myanbisco Food Industries Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှုနှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည် ဖော်ရမည်။

၈။ မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီ လီမိတက် (Myanbisco Food Industries Co., Ltd.) မှ ထုတ်လုပ်သည့် ဘီစကွတ်မုန့်များကို ဖြန့်ဖြူးရောင်းချခြင်း မပြုမီ၊ ကျန်းမာရေး ဝန်ကြီးဌာန၊ အစားအသောက်နှင့် ဆေးဝါးအာဏာပိုင်အဖွဲ့၏ စစ်ဆေးမှုကိုခံယူရမည်။

၉။ မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီ လီမိတက် (Myanbisco Food Industries Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၁၀။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၁။ မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီ လီမိတက် (Myanbisco Food Industries Co., Ltd.) မှ နိုင်ငံခြားသား ကျွမ်းကျင်သူများ ငှားရမ်းခွင့် ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ပါ သတ်မှတ်ချက်များနှင့်အညီ ဤကော်မရှင်သို့ သီးခြား တင်ပြလျှောက်ထားရမည်။

၁၂။ အဆိုပြု လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၃။ မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီ လီမိတက် (Myanbisco Food Industries Co., Ltd.) သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု

ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားရှိမှု အခြေအနေ ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ တင်ပြရမည်။

၁၄။ မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီ လီမိတက် (Myanbisco Food Industries Co., Ltd.) သည် ပူးတွဲပါ ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး ၃(သုံး)လအတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။

၁၅။ အဆိုပြု လုပ်ငန်း စတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၆။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်း စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

အ မိန့် အ ရ –

( ဗိုလ်မှူးချုပ် ဖမောင်မောင် )
အတွင်းရေးမှူး

စာအမှတ်၊ ရက–၁/မ–၃၄၈/၉၉ (၁၃၇ ၃)
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဧပြီလ ၂ ရက်။

ဖြန့်ဝေခြင်း–

၁။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော် အေးချမ်းသာယာရေး နှင့် ဖွံ့ဖြိုးရေး ကောင်စီ ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ စစ်မဟာဗျူဟာ လေ့လာရေးရုံး၊ ကာကွယ်ရေး ဝန်ကြီးဌာန။
၅။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။
၆။ အမျိုးသား စီမံကိန်း နှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။
၇။ အလုပ်သမား ဝန်ကြီးဌာန။
၈။ စီးပွားရေး နှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။
၉။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။
၁၀။ ဘဏ္ဍာရေး နှင့် အခွန် ဝန်ကြီးဌာန။
၁၁။ လူဝင်မှု ကြီးကြပ်ရေး နှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန။
၁၂။ လျှပ်စစ်စွမ်းအား ဝန်ကြီးဌာန။
၁၃။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။
၁၄။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမတည်ငွေရင်းတန်ဖိုး သတ်မှတ်ရေး အဖွဲ့ငယ်။ (ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်း စာရင်းအင်း နှင့် စစ်ဆေးရေး ဦးစီးဌာန။)
၁၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ စားသောက်ကုန်လုပ်ငန်း။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။
၁၇။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမား ညွှန်ကြားမှု ဦးစီးဌာန။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။
၁၉။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ ဆက်သွယ်ရေး လုပ်ငန်း။။
၂၀။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။
၂၁။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်း အခွန်များ ဦးစီးဌာန။
၂၂။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။
၂၃။ ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှု ကြီးကြပ်ရေး နှင့် အမျိုးသား မှတ်ပုံတင်ရေး ဦးစီးဌာန။
၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ် ဓါတ်အားလုပ်ငန်း။
၂၅။ ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေး ဦးစီးဌာန။
၂၆။ ဥက္ကဋ္ဌ၊ ပြည်ထောင်စု မြန်မာနိုင်ငံ ကုန်သည်များ နှင့် စက်မှုလက်မှုလုပ်ငန်းရှင်များ အသင်း။
၂၇။ အုပ်ချုပ်မှု ဒါရိုက်တာ၊ မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီ လီမိတက် (Myanbisco Food Industries Co., Ltd.)။

အ မိန့် အ ရ –

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
အမှတ် (၁) စက်မှုဝန်ကြီးဌာန

အမှာစာအမှတ် ၆/၁၈(၁)(၇၁၇)/၉၉(၁၀၀၁)

ရက်စွဲ၊ ရန်ကုန်မြို့၊ ၁၉၉၉ ခု၊ ဖေဖော်ဝါရီ လ ၁၅ ရက်။

အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉၉၉ ခုနှစ် ဇန်နဝါရီလ ၁၉ ရက်နေ့စွဲပါစာအမှတ်၊ ရက-၁/မ-၃၄၀/၉၀(၁၀၀၆၆)

Myanbisco Food Industries Co., Ltd. မှ ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၁)တွင် စက်ရုံတည်ဆောက်၍ နိုင်ငံတကာအဆင့်မီ ဘီစကွတ်များ ထုတ်လုပ်မှုလုပ်ငန်းနှင့်ပတ်သက်၍၊ ဤဝန်ကြီးဌာန အနေနှင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဝန်ကြီး ( [illegible] )
( မြင့်ဆွေ၊ ဂုံးအဖွဲ့မှူး )

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ ...
ဝင်စာတင်ပြ
ဝန်ကြီး..........
ညွှန်ချုပ်..........
ဒု-ညွှန်ချုပ်..........
သုံးမှူး..........

ဒိုင်/*၁၅၂၉၃

0/C

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

MYANBISCO FOOD INDUSTRIES CO., LTD.

မှ

ဘီစကွတ်စက်ရုံ

(Biscuits Factory)

တည်ထောင်ဆောင်ရွက်ရန်

အဆိုပြုတင်ပြချက်

# MYANBISCO FOOD INDUSTRIES COMPANY LIMITED
မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီ လီမိတက်

No.32, Shangone Street, Myenigone, Sanchaung Towship ,Yangon, Myanmar.
Phone : 95-1 (526091)


---

Date : _ _ _ _ _ _ _

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၁၉၉၉ ခုနှစ်၊ မတ်လ ( ၃ ) ရက်၊

**အကြောင်းအရာ ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် ပေးပို့ခြင်း။**

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ “ Myanbisco Food Industries Co., Ltd. ”သည် ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်(၃)၊ မြေကွက်အမှတ် (၁၀၉၊၁၁၀) တွင်၊ Biscuits Factory တည်ထောင် ခွင့်ပြုပါရန်၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်(၂၅)စောင် ပေးပို့တင်ပြ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

MYANBISCO FOOD INDUSTRIES CO., LTD
Date ............
No ............

( Zin Win )
Managing Director
MYANBISCO Food Industries Co., Ltd.

# MYANBISCO FOOD INDUSTRIES COMPANY LIMITED

မြန်ဘစ်(စ်)ကို ဖူ(ဒ်) အင်ဒက်(စ်)ထရီး ကုမ္ပဏီ လီမိတက်

No.32, Shangone Street, Myenigone, Sanchaung Towship ,Yangon, Myanmar.
Phone : 95-1 (526091)


Date : _ _ _ _ _ _ _

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၁၉၉၉ ခုနှစ်၊ ဇန်နဝါရီလ (၁၄) ရက်၊

အကြောင်းအရာ ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် ပေးပို့ခြင်း။

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ " Myanbisco Food Industries Co., Ltd. " သည် ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုံ(၃)၊ မြေကွက်အမှတ် (၁၀၉၊၁၁၀) တွင်၊ Biscuits Factory တည်ထောင် ရန်၊ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုမိန့် ရရှိနိုင်ရန်အတွက်၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ကြိုတင်ညှိနှိုင်း အစည်းအဝေး သို့ တင်ပြရန် အဆိုပြုလွှာ (၁၂)စောင်ကို ပေးပို့တင်ပြ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

ဦးဇင်ဝင်း
အုပ်ချုပ်မှုဒါရိုက်တာ
Myanbisco Food Industries Co., Ltd.

**MYANBISCO FOOD INDUSTRIES COMPANY LIMITED**
**မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒက်(စ်)ထရီး ကုမ္ပဏီ လီမိတက်**

No.32, Shangone Street, Myenigone, Sanchaung Towship ,Yangon, Myanmar.
Phone : 95-1 (526091)

MYANBISCO FOOD INDUSTRIES CO., LTD
Date ..........
No ..........

Date : _ _ _ _ _ _ _

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၁၉၉၉ ခုနှစ်၊ ဇန်နဝါရီလ (**၁၄**) ရက်၊

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများ၊ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံ ကုမ္ပဏီများ ဥပဒေအရ တရားဝင် ဖွဲ့စည်းတည်ထောင်ထားသော Myanbisco Food Industries Co., Ltd. သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ၊ ရန်ကုန်တိုင်း၊ ရွှေပြည်သာ စက်မှုဇုံ(၃)၊ အကွက်အမှတ် (၁၀၉၊၁၁၀) တွင်၊ နိုင်ငံတကာအဆင့်မီဘီစကွက်များ ထုတ်လုပ်နိုင်ရန်အတွက် ဘီစကွက်စက်ရုံ တည်ဆောက်ပြီး၊ လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြ လျှောက်ထား ခြင်း ဖြစ်ပါသည်။

၂။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ တရားဝင် မှတ်ပုံတင် ထားပြီးဖြစ်သော Myanbisco Food Industries Co., Ltd. အနေဖြင့် ဘီစကွက်စက်ရုံ တည်ဆောက်ရန်အတွက်၊ ကျပ်၅၉၁.၇၀ သိန်း (ကျပ် ငါးရာ ကိုးဆယ့်တစ် ဒသမ ခုနစ်သိန်း တိတိ) ကို ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ Biscuits Factory အတွက် လိုအပ်သော စက်ပစ္စည်း ကရိယာနှင့် ကုန်ကြမ်းပစ္စည်းများကို၊ အင်ဒိုနီးရှားနိုင်ငံ Bengkel-Las & Bubut (SINAR) ကုမ္ပဏီ မှ Deferred Payment Loan Agreement on the basis of Buy-back System ဖြင့် ဝယ်ယူမည်ဖြစ်ပြီး၊ စက်ရုံမှထွက်ရှိသော ကုန်ချောများကို ပြန်လည် ဝယ်ယူမည်ဖြစ်ရာ၊ စက်ပစ္စည်းနှင့် ကုန်ကြမ်း တန်ဖိုးကို ဝယ်ယူမည့် ကုန်ချော တန်ဖိုးဖြင့် ခုနှိမ်မည် ဖြစ်ပါသည်။

၃။ အဆိုပါ Biscuits Factory မှ၊ အောက်ပါပစ္စည်းများကို၊ ထုတ်လုပ်မည် ဖြစ်ပြီး၊ ပြည်တွင်း၌ ၈၀ရာခိုင်နှုန်းနှင့် ပြည်ပသို့ ၂၀ ရာခိုင်နှုန်း ရောင်းချမည် ဖြစ်ပါသည်။

(က) Burger Biscuit (Packet)
(ခ) Superior Marie (Special Marie) (Packet)
(ဂ) Crispy Crackers (Packet)
(ဃ) Butter Marie (Tin)
(င) Creamy Chocolate (Packet)

အထက်ပါထုတ်လုပ်မည့် ဘီစကွတ်များကို၊ မြန်မာနိုင်ငံ အစားအသောက်နှင့် ဆေးဝါး အာဏာပိုင်အဖွဲ့ ( Myanmar Food and Drug Board of Authority ) ၏စစ်ဆေး မှုကို၊ ခံယူပြီးမှသာ ဖြန့်ဖြူးရောင်းချမည် ဖြစ်ပါသည်။

၄။ ဘီစကွတ်မုန့်များထုတ်လုပ်မည့် စက်မှုလုပ်ငန်းတည်ထောင်ခြင်းဖြင့် မြန်မာနိုင်ငံမှထွက်ရှိသော ကုန်ကြမ်းများကို အသုံးပြုပြီး ခေတ်မီ နည်းများဖြင့် ပြုပြင်ထုပ်ပိုး၍ နိုင်ငံတကာ အဆင့်မီ တန်ဘိုးမြှင့် ကုန်ချောပစ္စည်း အမျိုးမျိုးကို ပြည်တွင်း ပြည်ပ ဈေးကွက်များသို့ တင်ပို့ရောင်းချ သွားနိုင်မည် ဖြစ်ပါသည်။ ထို့အပြင် မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အသစ်များ ပေါ်ပေါက်လာမည်ဖြစ်ပြီး၊ နည်းပညာ အသစ်များလည်း၊ ရရှိလာနိုင်မည် ဖြစ်ပါသည်။ ထို့အပြင် ပြည်ပမှ တင်သွင်းလျက်ရှိသည့် ဘီစကွတ်များကို၊ ပြည်တွင်းမှာသာ ထုတ်လုပ်ပြီး၊ ပြည်ပသို့ ပြန်လည် တင်ပို့မည်ဖြစ်ရာ၊ သွင်းကုန် အစားထိုး လုပ်ငန်းအပြင်၊ ပြည်ပ ပို့ကုန် လုပ်ငန်းကိုပါ တိုးချဲ့ လုပ်ကိုင်ခြင်း ဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက် လည်းကောင်း၊ မြန်မာ နိုင်ငံသားများအတွက် အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာစေရန်အတွက်လည်းကောင်း၊ အဆာပြေ အသင့်စားသုံးနိုင်သည့် အစားအစာများ ပြုပြင်ထုတ်လုပ် ထုပ်ပိုးသည့် နည်းပညာ ရပ်များ တိုးပွါးလာစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံ၏ စီးပွါးရေး ဖွံ့ဖြိုးတိုးတက်လာ စေရန်အတွက်လည်းကောင်း၊ကျွန်တော်များ၏ လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန် နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်တို့ကိုလည်း ခံစားခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

၆။ ဤလျှောက်လွှာနှင့်အတူအောက်ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကိုပူးတွဲတင်ပြအပ်ပါသည်။

(က) ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ရန် ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန် အဆိုပြုချက်၊

(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ၊

(ဂ) Deferred Payment Loan Agreement on the Basis of Buy-back System (draft)

(ဃ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊

(င) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းနှင့် ကုမ္ပဏီမှတ်ပုံတင်ထားပြီးဖြစ်ကြောင်း အထောက်အထားများ၊

လေးစားစွာဖြင့်

လျှောက်ထားသူ

ဦးဇင်ဝင်း
အုပ်ချုပ်မှုဒါရိုက်တာ
Myanbisco Food Industries Co., Ltd.

**MYANBISCO FOOD INDUSTRIES COMPANY LIMITED**
**မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒက်(စ်)ထရီး ကုမ္ပဏီ လီမိတက်**

No.32, Shangone Street, Myenigone, Sanchaung Towship ,Yangon, Myanmar.
Phone : 95-1 (526091)

MYANBISCO FOOD INDUSTRIES CO., LTD
Date ............
No ............

Date : _______

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၁၉၉၉ ခုနှစ်၊ ဇန်နဝါရီလ ( ၁၄ ) ရက်၊

အကြောင်းအရာ ။ ။ **နိုင်ငံတကာအဆင့်မီ ဘီစကွတ်မုန့်များထုတ်လုပ်သည့် စက်မှုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိဝန်ခံချက် တင်ပြခြင်း။**

၁။ အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံတွင် တရားဝင်ဖွဲ့စည်းတည်ထောင်ထားသည့် Myanbisco Food Industries Co., Ltd. သည့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ နိုင်ငံတကာအဆင့်မီ ဘီစကွတ်မုန့်များ ထုတ်လုပ်သည့် စက်မှုလုပ်ငန်း တည်ထောင် ဖွင့်လှစ်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြလျှောက်ထားခြင်း ဖြစ်ပါသည်။ ထိုသို့ လျှောက်ထားရာတွင် ခွင့်ပြုမိန့် ရရှိနိုင်ရေးအတွက် အောက်ပါတို့ကို ဝန်ခံကတိပြုအပ်ပါသည်။

(က) ဤလုပ်ငန်းသည်မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင်နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိပါကြောင်းဝန်ခံကတိပြုတင်ပြအပ်ပါသည်။

(ခ) ဤစက်ရုံမှ ထွက်ရှိလာသော ကုန်ချော ပစ္စည်းများအတွက် ပြည်ပသို့ တင်ပို့ ရောင်းချရန် ဈေးကွက် ရှိပြီးဖြစ်ပါသည်။ ကုန်ချောပစ္စည်းများကို မိမိကိုယ်ပိုင်တံဆိပ်ဖြင့် ထုတ်လုပ်ဖြန့်ဖြူးရောင်းချမည် ဖြစ်ပါသည်။

(ဂ) နိုင်ငံတော်အစိုးရမှမြေယာနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်းသည့်စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

(ဃ) ဤလုပ်ငန်းသည်လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

(င) ထို့အပြင် ကျွန်တော်များကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွါးစေရန်အတွက်၊ လိုအပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည် ဖြစ်ပါကြောင်းနှင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(စ) မီးဘေး ကြိုတင်ကာကွယ်မှုအတွက် အစီအမံများပြုလုပ်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(ဆ) " Myanbisco Food Industries Co., Ltd." သည်၊ အင်ဒိုနီးရှားနိုင်ငံ Bengkel-Las & Bubut (Sniar) ကုမ္ပဏီ မှ စက်ပစ္စည်းကရိယာများနှင့် ကုန်ကြမ်းများကို Deferred Payment Loan Agreement on the Basis of Buy Back System ဖြင့် US$ 140,000 ရယူခြင်း ကိစ္စသည် နိုင်ငံတော်နှင့်သက်ဆိုင်ခြင်းမရှိပဲ၊ ဤလုပ်ငန်းမှ ထွက်ရှိသော ကုန်ချော ပစ္စည်းများကို ဝယ်ယူမည် ဖြစ်သဖြင့် ရောင်းရငွေမှ ပစ္စည်းဖိုးကို ခုနှိမ်မည် ဖြစ်ကြောင်း တာဝန်ယူပါသည်။

(ဇ) Myanbisco Food Industries Co., Ltd. အနေဖြင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း ဒေသန္တရ စက်မှုကြီးကြပ်ရေးနှင့် လုပ်ငန်းစစ်ဆေးရေး ညွှန်ကြားမှုဦးစီး ဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်းအဖြစ် မှတ်ပုံတင်ထားရှိမည် ဖြစ်ကြောင်း ဝန်ခံကတိ ပြုပါသည်။

လေးစားစွာဖြင့်

ဦးဇင်ဝင်း
အုပ်ချုပ်မှုဒါရိုက်တာ
Myanbisco Food Industries Co., Ltd.

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ ( မနသ–၁)

# မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

**[ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈ ]**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

စာအမှတ် ၊

ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဇန်နဝါရီလ(**၁၄**) ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံလိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန်အောက်ပါအချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏–

| | |
|---|---|
| (က) အမည် | – **ဦးဇင်ဝင်း** |
| (ခ) အဖအမည် | – **ဦးအေးမောင်** |
| (ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | – **၁၂/စခန(နိုင်) ဝ၅၇၅၂၃** |
| (ဃ) နေရပ်လိပ်စာ | – **အမှတ် –၃၂၊ ရှမ်းကုန်းလမ်း၊မြေနီကုန်း၊ စမ်းချောင်းမြို့နယ်၊ရန်ကုန်။** |
| (င) လူမျိုး၊ဘာသာ | – **မြန်မာ/ ဗုဒ္ဓဘာသာ** |
| (စ) အဖွဲ့အစည်းအမည် | – Myanbisco Food Industries Co., Ltd. |
| (ဆ) လုပ်ငန်းအမျိုးအစား | – **စက်မှုလုပ်ငန်း (ဘီစကွတ်စက်ရုံ)** |
| (ဇ) အဖွဲ့အစည်းတည်နေရာအရပ် | – **အမှတ် –၃၂၊ ရှမ်းကုန်းလမ်း၊ မြေနီကုန်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။** |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏–

(က) အမည် (၁) .......................... (၂) ..............................

.......................... ..............................

.......................... ..............................

(ခ) အဖအမည် (၁) .......................... (၂) ..............................

.......................... ..............................

.......................... ..............................

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်

(၁) .......................... (၂) ..............................

.......................... ..............................

.......................... ..............................

(ဃ) နေရပ်လိပ်စာ (၁) .......................... (၂) ..............................

.......................... ..............................

.......................... ..............................

(င) လူမျိုးဘာသာ (၁) .......................... (၂) ..............................

.......................... ..............................

.......................... ..............................

(စ) အဖွဲ့အစည်းအမည် ..............................................................................

(ဆ) လုပ်ငန်းအမျိုးအစား ..............................................................................

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ..............................................................................

..............................................................................

( နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပိုပါက သီးခြားစာရွက်တွင်ဖော်ပြပူးတွဲရန် )

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား–

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း – **ဘီစကွတ်မုန့်အမျိုးမျိုး ထုတ်လုပ်ခြင်းလုပ်ငန်း၊**
(Biscuits Factory)

(ခ) ဝန်ဆောင်မှုလုပ်ငန်း – ..............................................................................

( ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန် )

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ–

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

-------------- **လီမိတက်ကုမ္ပဏီ** --------------

(ခ) အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

------------------- မရှိပါ -------------------

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း။

------------------- မရှိပါ ----------------------

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဍာန်–

(က) တစ်ဦးတည်းပိုင် – ................................................................

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း – **လီမိတက်ကုမ္ပဏီ**

(ဂ) လီမိတက်ကုမ္ပဏီ – Myanbisco Food Industries Co., Ltd.

(ဃ) သမဝါယမအသင်း – ................................................................

(အများနှင့်မသက်ဆိုင်သည့်ကုမ္ပဏီ/အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့် မ,တည်ငွေရင်းအချိုးအစား၊စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့် သူများ၏ အမည်၊နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင်ပြရန်) **နောက်ဆက်တွဲ (၁)**

၆။ ဖက်စပ်/အစုစပ်လုပ်ငန်း ဖြစ်ပါက–

(က) အစုစပ်တို့က ထည့်ဝင်မည့်အရင်းငွေအချိုးအစားနှင့်ပမာဏ

................................................................................

(ခ) အကျိုးအမြတ်ခွဲဝေမည့် အချိုးအစား ................................................................

(ဂ) အစုဝင်များ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ ................................................................

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီဖြစ်ပါက–

(က) ခွင့်ပြုမတည်ငွေရင်း – **ကျပ်သန်းငါးရာ တိတိ**

(ခ) အစုရှယ်ယာ အမျိုးအစား – **တစ်စုလျှင်ကျပ်တစ်သောင်းတန်အစုရှယ်ယာ ၅၀,၀၀၀**

(ဂ) အစုရှယ်ယာများကထည့်ဝင်မည့်အစုရှယ်ယာပမာဏ– **အစုရှယ်ယာ ကျပ်သိန်း ၇၃၀**
**(အရေအတွက် ၇,၃၀၀ ရှယ်ယာ)**

၈။ ရင်းနှီးမြုပ်နှံမှု ပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ–

(က) မတည်ငွေရင်းပမာဏ**(ထောင်ပေါင်း)**

| | ကိုယ်ပိုင် (ကျပ်) | နိုင်ငံခြားငွေ US$ | စုစုပေါင်း (ကျပ်) |
|---|---|---|---|
| (၁) ငွေပမာဏ – ( နိုင်ငံခြား မ,တည်ငွေပါဝင်ပါကသီးခြားဖော်ပြရန် ) | ၁၀,၀၀၀ | – | ၁၀,၀၀၀ |
| (၂) စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ ( အသေးစိတ်စာရင်း ပူးတွဲတင်ပြရန် ) **နောက်ဆက်တွဲ–၂** | | ၁၂၀ | ၇၂၀ |
| (၃) မြေ | ၁၇,၈၃၀ | – | ၁၇,၈၃၀ |
| (၄) အဆောက်အအုံများ | ၂၅,၀၀၀ | – | ၂၅,၀၀၀ |
| (၅) ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ ( အသေးစိတ်စာရင်း ပူးတွဲတင်ပြရန် ) **နောက်ဆက်တွဲ– ၃** | ၅၀၀ | – | ၅၀၀ |
| (၆) ကုန်ကြမ်းပစ္စည်းတန်ဖိုးပမာဏ – ( အသေးစိတ်စာရင်း ပူးတွဲတင်ပြရန် ) **နောက်ဆက်တွဲ – ၄** | ၅,၀၀၀ | ၂၀ | ၅,၁၂၀ |
| စုစုပေါင်း | ၅၈,၃၃၀ | ၁၄၀ | ၅၉,၁၇၀ |

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့်

| | ကျပ် (၀၀၀) | US$(၀၀၀) |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့် ပစ္စည်းတို့၏တန်ဖိုးပမာဏ (ချေးငွေ) ( အသေးစိတ်စာရင်း ပူးတွဲတင်ပြရန် ) **နောက်ဆက်တွဲ – ၂** | ၇၂၀ | ၁၂၀ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့် အခြား အလားတူပစ္စည်းများ၏တန်ဖိုး (ချေးငွေ) (အသေးစိတ်စာရင်း ပူးတွဲတင်ပြရန် ) | ၁၂၀ | ၂၀ |
| (၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ | – | – |
| စုစုပေါင်း | ၈၄၀ | ၁၄၀ |

(ဂ) တည်ဆောက်မှုကာလ – **(၁) နှစ်**

(ဃ) ပဏာမ စူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ – **(၃) လ**

(င) တည်ဆောက်မှု စတင်မည့်အချိန် – **ခွင့်ပြုမိန့်ရရှိပြီး(၆)လအတွင်း**

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ–

(က) လုပ်ငန်းအမျိုးအစား – **ဘီစကွတ်မုန့်များထုတ်လုပ်ခြင်းလုပ်ငန်း** (Biscuits Factory)
(ကုန်ထုတ်လုပ်မှု/ဝန်ဆောင်မှုစသည့်ဖော်ပြရန်)

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ – **ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုံ(၃)၊ မြေတိုင်းရပ်ကွက်(၆၄)၊ အကွက်အမှတ် (၁၀၉)နှင့် (၁၁၀)**

(ဂ) ဆောင်ရွက်ပုံနည်းစနစ် – **နိုင်ငံတကာအဆင့်မီဘီစကွတ်မုန့်များကိုထုတ်လုပ်ပြီး ခေတ်မီ နည်းစနစ်များဖြင့် ထုတ်လုပ်ထည့်သွင်းကာ ပြည်တွင်း၊ ပြည်ပသို့ ရောင်းချမည် ဖြစ်ပါသည်။**

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက်–

| | **အမျိုးအစား** | **အရေအတွက်** |
|---|---|---|
| ၁။ | **ဒီဇယ်ဆီ** | **၁၂,၀၀၀ ဂါလံ** |
| ၂။ | **ဓါတ်ဆီ** | ............. |
| ၄။ | **စက်ဆီ၊ ချောဆီ** | ............. |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက်–

| **အားအသုံးပြုမှု** | မြင်းကောင်ရေ |
|---|---|
| ၁။ လျှပ်စစ်ဓါတ်အား | **တနေ့လျှင် ၂၅၀ ကီလိုဝပ်** |
| ၂။ ဓာတ်ဆီ / ဒီဇယ်အင်ဂျင်စက်အင်အား | ........................... |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | ........................... |
| ၄။ သဘာဝဓာတ်ငွေ့သုံးစက်အား | ........................... |
| ၅။ ပေးပို့သည့်အခြားအား | ........................... |

(ရေအား / လေအား စသည်များ)

(စ) နှစ်စဉ် ရေလိုအပ်ချက် **၇၅၀,၀၀၀ ဂါလံ**

(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန်) **တနေ့၂,၅၀၀ ဂါလံ**

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက်

| **အမျိုးအမည်** | ရေတွက်ပုံ | **အရေအတွက်** | **တန်ဖိုး (ကျပ်ထောင်ပေါင်း)** |
|---|---|---|---|
| ၁။ အဓိကကုန်ကြမ်း | | | |
| (၁) ................ | .............. | .............. | ............. |
| (၂) ................ | .............. | .............. | ............. |
| | | **နောက်ဆက်တွဲ – (၄) (၆)** | |
| ၂။ အထောက်အကူကုန်ကြမ်း | | | |
| (၁) ................ | .............. | .............. | .............. |
| ................ | .............. | .............. | .............. |
| ၃။ စက်သုံးဆီ/ဓါတ်ငွေ့များ – | | | |
| (၁) ................ | .............. | .............. | .............. |
| (၂) ................ | .............. | .............. | .............. |

(ဓ) အဆောက်အအုံလိုအပ်ချက် – ၇၅' x ၃၀၀' **အဆောက်အအုံ**

(ဈ) မြေနေရာအမျိုးအစားနှင့်အကျယ်အဝင်းလိုအပ်ချက် – **၃.၅၆၆ ဧက**

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ဆောင်ရွက်မည့်ဝန်ဆောင်မှု **(တစ်နှစ်ပျမ်းမျှ)**

| **အမျိုးအမည်** | ရေတွက်ပုံ | **အရေအတွက်** | **တန်ဖိုး** |
|---|---|---|---|
| | | **နောက်ဆက်တွဲ–၅** | |
| ......... | ........ | ....... | ......... |
| ......... | ........ | ....... | ......... |

(ဋ) ရောင်းချမည့်နည်းစနစ် – **ကုန်ချော၏ ၂၀%ကိုပြည်ပသို့ရောင်းချပြီး၊ ၈၀%ကို ပြည်တွင်းတွင် ဖြန့်ဖြူးရောင်းချမည်**။

၁၀။ နှစ်စဉ်ကုန်ထုတ်မှု/ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ –

| | ခန့်မှန်းခြေ ကျပ်ငွေ | နိုင်ငံခြားငွေ |
|---|---|---|
| (က) လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | **၅၈,၃၃၀,၀၀၀** | – |
| (ခ) လိုအပ်မည့်နိုင်ငံခြားသုံးငွေ | – | **၁၄၀,၀၀၀** |
| (ဂ) ရရှိမည့်နိုင်ငံခြားသုံးငွေပမာဏ | – | – |
| (ဃ) ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | – | – |
| (င) နှစ်စဉ်ပြည်တွင်း၌ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှုတန်ဖိုးပမာဏ | – | – |

**နောက်ဆက်တွဲ(၅) (၇) (၈)**

၁၁။ ဆောင်ရွက်မည့် စီးပွါးရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများစာရင်း –

(က) ပြည်တွင်းမှ လိုအပ်မည့် အမှုထမ်းများ –

| အမှုထမ်းအမျိုးအစား | ဦးရေ |
|---|---|
| **စီမံခန့်ခွဲမှု** | **၅ ဦး** |
| **စက်ရုံဝန်ထမ်း** | **၃၀ ဦး** |
| စုစုပေါင်း | **၃၅ ဦး** |

**နောက်ဆက်တွဲယား (၉)**

| | |
|---|---|
| ............... | ............. |
| ............... | ............. |
| .............. | ............. |

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ –

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်ထားမည့်အချိန်ကာလ |
| --- | --- | --- |
| ကျွမ်းကျင်သူပညာရှင် (စက်တပ်ဆင်မှုကာလ) | ၂ဦး | (၆) လ |
| လုပ်ငန်းကျွမ်းကျင်သူပညာရှင် | ၂ဦး | အချိန်ပိုင်း |

၁၂။ စီးပွါးရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ –

| | ကျပ်ငွေ (ထောင်ပေါင်း) | နိုင်ငံခြားငွေ (ထောင်ပေါင်း) |
| --- | --- | --- |
| (က) နှစ်စဉ်ဝင်ငွေရရှိမှု | ၄၁၃,၀၄၆ | ၃၃၇ |
| (ခ) နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | ၃၅၅,၁၉၂ | ၂၂ |
| (ဂ) နှစ်စဉ်အသားတင်အမြတ် | ၂၀,၃၀၄ | ၃၁၅ |
| (ဃ) နှစ်အလိုက်ရင်းနှီးမြှုပ်နှံမှု (ပထမနှစ်) | ၅၈,၃၃၀ | ၁၄၀ |
| (င) အရင်းကျေကာလ | – (၂) နှစ် (၁၀)လ | |
| (စ) အခြား အကျိုးအမြတ်များ | – အလုပ်အကိုင် ပိုမိုရရှိ၍ နည်းပညာသစ်များ ရရှိပြီး၊ သွင်းကုန်အစားထိုး လုပ်ငန်းဖြစ်ကာ ပြည်ပသို့ တင်ပို့ ရောင်းချခြင်းဖြင့်နိုင်ငံတော် အတွက်နိုင်ငံခြားဝင်ငွေရရှိခြင်း၊ | |
| (ဆ) အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့် အခြေအနေ | – အလုပ်သမား ၃၅ ဦး အလုပ်အကိုင်ရရှိပါမည်။ | |

နောက်ဆက်တွဲ –ဇ

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ၊

(ဂ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ဖွဲ့စည်းခြင်း မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါကလက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ။

လက်မှတ်၊ ..............................

အမည်၊ ဦးဇင်ဝင်း

ရာထူး၊ အုပ်ချုပ်မှုဒါရိုက်တာ
Myanbisco Food Industries
Co., Ltd.
(လျှောက်ထားသူ)

## List of Executives of the Myanbisco Food Industries Co., Ltd.

| Sr.No. | Name | Citizenship | Position | Address |
|---|---|---|---|---|
| 1. | U Zin Win | Myanmar 12/Sa Ka Na (Naing) 057523 | Managing Director | No.32, Shangone Street, Myenigone, Sanchaung Town-ship, Yangon. |
| 2. | U Thein Win | H/RGN 003216 | Director | No.32, Shangone Street, Myenigone, Sanchaung Town-ship, Yangon. |
| 3. | U Soe Lwin | Myanmar NBN-104940 | Director | No.154, Bargayar Street, North Sanch-aung, Sanchaung Township, Yangon. |

နောက်ဆက်တွဲ ( ၂ )

**Myanbisco Food Industries Co., Ltd.**
**Estimates of Machinery and Equipment to be Imported for Biscuits Factory on Deferred Payment Loan Agreement**

| Sr. No. | Description | Quantity | Unit Price | Value US$ |
|---|---|---|---|---|
| 1. | Dough mixer | 4 | 1,000 | 4,000 |
| 2. | Tub tilter (Drum) | 6 | 50 | 300 |
| 3. | Dough feeder (Sheeter) | 1 | 1,000 | 1,000 |
| 4. | Laminator | 1 | 4,500 | 4,500 |
| 5. | Gauge roller | 3 | 1,500 | 4,500 |
| 6. | Cutter mould | 15 | 200 | 3,000 |
| 7. | Salt/Sugar spreader machine | 1 | 500 | 500 |
| 8. | Oven (50 meter) (included) | 1 Set | 20,000 | 20,000 |
| | In and Out Big Roll for Oven Belt | | | |
| 9. | Steel Belt (Wire Mesh) | 1 | 3,500 | 3,500 |
| 10. | Oil Burner | 7 | 300 | 2,100 |
| 11. | Oil Sprayer | 1 | 500 | 500 |
| 12. | Cooling Conveyor | 1 Set | 600 | 600 |
| 13. | Feeding Conveyor | 1 Set | 600 | 600 |
| 14. | Stacker | 1 Set | 600 | 600 |
| 15. | Stage packing Conveyor | 1 Set | 600 | 600 |
| 16. | Hand pallet trucks | 4 | 100 | 400 |
| 17. | Conveyor belt (canvas) | 3 | 300 | 900 |
| 18. | Motors (1.5 HP to 30 HP) | 30 | 441 | 13,230 |
| 19. | Packing machines | 5 | 450 | 2,250 |
| 20. | Sealing machines | 7 | 60 | 420 |
| 21. | Dryer oven (12' x 15') | 1 Set | 12,000 | 12,000 |
| 22. | Main auto electronic box | 1 Set | 10,000 | 10,000 |
| 23. | Voltage generator | 2 | 2,500 | 5,000 |
| 24. | Tools | 1 Set | 500 | 500 |
| 25. | Creaming machines | 3 Set | 2,000 | 6,000 |
| 26. | Truck | 1 | 5,000 | 5,000 |
| 27. | Station wagon | 1 | 6,000 | 6,000 |
| 28. | Saloon | 1 | 8,000 | 8,000 |
| 29. | Pick up | 1 | 4,000 | 4,000 |
| | | | Total | 120,000 |

နောက်ဆက်တွဲ ( ၃ )

## မြန်ဘစ်(စ်)ကို ဖ(ဒ်) အင်ဒတ်(စ်)စရီး ကုမ္ပဏီ လီမိတက်
## ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ

| အမှတ်စဉ် | ပရိဘောဂအမျိုးအစား | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး (ကျပ်) |
|---|---|---|---|---|
| ၁. | စားပွဲ | လုံး | ၅ | ၅၀,၀၀၀ |
| ၂. | ကုလားထိုင် | လုံး | ၅ | ၂၀,၀၀၀ |
| ၃. | အစည်းအဝေးစားပွဲ | လုံး | ၁ | ၂၀,၀၀၀ |
| ၄. | ဆိုဖါကုလားထိုင် | စုံ | ၁ | ၃၀,၀၀၀ |
| ၅. | ရုံးသုံးပရိဘောဂများ | စုံ | ၁၂ | ၃၀,၀၀၀ |
| ၆. | လုပ်ငန်းသုံးပရိဘောဂများ | စုံ | ၈ | ၂၀,၀၀၀ |
| ၇. | ပစ္စည်းတင်စင်များ | | ၁၅ | ၃၀,၀၀၀ |
| ၈. | အလုပ်သမားထမင်းစား စားပွဲနှင့်ခုံများ | စုံ | ၅ | ၅၀,၀၀၀ |
| ၉. | လက်နှိပ်စက် | လုံး | ၂ | ၁၅၀,၀၀၀ |
| ၁၀. | ကွန်ပြူတာ | လုံး | ၁ | ၁၀၀,၀၀၀ |
| | စုစုပေါင်း | | | ၅၀၀,၀၀၀ |

နောက်ဆက်တွဲ ( ၄ )
Sheet (1)

## Myanbisco Food Industries Co., Ltd.
## List of Raw Materials to be imported Per Year

| Sr No. | Particular | A/U | Qty | Unit Price | Value (US$) |
|---|---|---|---|---|---|
| 1. | Dextrose & Glucose | Ton | 10 | 750 | 7,500 |
| 2. | Narton & Enzymes | Ton | 3 | 500 | 1,500 |
| 3. | Whey powder | Ton | 5 | 350 | 1,750 |
| 4. | Malt Extract | Ton | 5 | 500 | 2,500 |
| 5. | Lecithin | Ton | 6 | 400 | 2,400 |
| 6. | Peanut Butter | Ton | 5 | 450 | 2,250 |
| 7. | Chemical and Dye | Ton | 1 | 2,100 | 2,100 |
| | Total | | 34 | | 20,000 |

Note: Shall be contributed as capital for one year Raw Material requirement

## List of Raw Materials to be Purchased from Local Per Year

| Sr No. | Particular | A/U | Qty | Price (Kyat) | Value (000) (Kyat) |
|---|---|---|---|---|---|
| 1. | Flour | Ton | 800 | 100,000 | 80,000 |
| 2. | Corn Flour | Ton | 54 | 200,000 | 10,800 |
| 3. | Shortening | Ton | 11 | 250,000 | 2,750 |
| 4. | Margarine | Ton | 21 | 250,000 | 5,250 |
| 5. | Palm Oil | Ton | 160 | 260,000 | 41,600 |
| 6. | Sugar | Ton | 267 | 90,000 | 24,030 |
| 7. | Milk Powder | Ton | 16 | 210,000 | 3,360 |
| 8. | Salt | Ton | 16 | 8,000 | 128 |
| 9. | Soda | Ton | 5 | 85,000 | 425 |
| 10. | Ammonium Bicarbonate | Ton | 43 | 80,000 | 3,440 |
| 11. | Vanilla Powder | Ton | 1 | 1,500,000 | 1,500 |

နောက်ဆက်တွဲ ( ၄ )
**SHEET (2)**

## Myanbisco Food Industries Co., Ltd.
## List of Raw Materials to be Purchased from Local Per Year

| Sr No. | Particular | A/U | Qty | Price (Kyat) | Value (000) (Kyat) |
|---|---|---|---|---|---|
| 12. | Flavours and Essences | Ton | 1.6 | 2,000,000 | 3,200 |
| 13. | Cocoa Powder | Ton | 8 | 360,000 | 2,880 |
| 14. | Yeast | Ton | 2.7 | 1,000,000 | 2,700 |
| 15. | Baking Powder | Ton | 1.6 | 150,000 | 240 |
| 16. | Food Colours | Ton | 0.26 | 1,800,000 | 468 |
| 17. | Plastic Bags | pkt (000) | 3,933 | 10 | 39,330 |
| 18. | Carton Box | No. | 163,888 | 70 | 11,472 |
| 19. | Tin | No. | 30,000 | 300 | 9,000 |
| | | | | Total | 242,573 |

မှတ်ချက် ။ ။ အထက်ဖော်ပြပါ ကုန်ကြမ်းများအနက် ကျပ်၅၀သိန်းခန့် ကုန်ကြမ်းများကို စက်စမ်းသပ် လည်ပတ်ရာတွင် အသုံးပြုမည် ဖြစ်ပါသဖြင့်၊ ကျပ်၅၀သိန်းတန်ဖိုး ရှိသော ကုန်ကြမ်းများကို မ,တည်ငွေရင်းအဖြစ် ထည့်ဝင်မည် ဖြစ်ပါသည်။

ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

# ထုတ်ကုန် သွင်းကုန် လုပ်ငန်းရှင် မှတ်ပုံတင်လက်မှတ်

ကြီးကြပ်အမှတ် ထသက-၄၆၀၂ ထုတ်ပေးအည့်ရက်စွဲ ၁-၁၀-၉၈

၁။ ရန်ကုန် ပြည်နယ်/တိုင်း စမ်းချောင်း မြို့/မြို့နယ်အတွင်းရှိ မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီလီမိတက် အား ထုတ်ကုန် သွင်းကုန် လုပ်ငန်းရှင်အဖြစ် မှတ်ပုံတင်ခွင့်ပြုသည်။

(က) လုပ်ငန်း အမျိုးအစား ကုမ္ပဏီလီမိတက်

(ခ) လုပ်ငန်းမှတ်ပုံတင်အမှတ် ၅၉၄/၁၉၉၈-၉၉

(ဂ) လုပ်ငန်းဌာနလိပ်စာ အမှတ်(၃၂) ရှမ်းကုန်းလမ်းမြေနီကုန်း၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။

တယ်လီဖုန်းအမှတ် ........ ကေဘယ်လ်အမှတ် ........ ဖက်စ်အမှတ် ........

(ဃ) ခွင့်ပြုသည့် ကုန်ပစ္စည်းအမျိုးအမည် – ကန့်သတ်ထားသော ကုန်ပစ္စည်းအမယ်များမှလွဲ၍ ကုန်ပစ္စည်းများအားလုံး

(င) မှတ်ပုံတင်သက်တမ်း (၁-၁၀-၉၈ မှ ၃၀-၉-၂၀၀၁ ထိ) (၃နှစ်)

မှတ်ချက်။ ။ လုပ်ငန်းရှင်သည် မှတ်ပုံတင် ထုတ်ကုန် သွင်းကုန်လုပ်ငန်းလုပ်ကိုင်သူများ လိုက်နာရမည့် စည်းကမ်းချက်များကို လိုက်နာရမည်။

(signature)
၁/၁၀/၉၈

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)

( အေးမှူ-လက်ထောက်ညွှန်ကြားရေးမှူး )

၂။ ထုတ်ကုန် သွင်းကုန်လုပ်ငန်း လုပ်ငန်းရှင်မှတ်ပုံတင်အား သက်တမ်း တိုးမြှင့်ပေးခြင်း။

| သက်တမ်းတိုးမြှင့်သည့်ကာလ | ခွင့်ပြုသူလက်မှတ်နှင့်အမည် |
| --- | --- |
| (၁) ........ နေ့မှ ........ ထိ | ........ |
| (၂) ........ နေ့မှ ........ ထိ | ........ |
| (၃) ........ နေ့မှ ........ ထိ | ........ |

# BENGKEL LAS & BUBUT "SINAR"

Jln. Raya Cilember No. 319 Cimahi 40522
Telp. (022) 6652797 fax. (022) 6652798

## MEMORANDUM OF UNDERSTANDING
## BETWEEN
MYANBISCO FOOD INDUSTRIES CO., LTD AND BENGKEL LAS & BUBUT "SINAR"

1.This Memorandum is made by 2nd day of December 1998 between Myanbisco Food Industries Co., Ltd., (hereafter referred to as Parts A) represented for the purpose of this MOU by U Zin Win , Managing Director of one part and Bengkel Las & Bubut "Sinar" (hereafter referred to as Parts B) represented for the purpose of this MOU by Mr. Eddy Mustafa, Managing Director of the other part.

2.The parties to this Memorandum have agreed to examine the viability of economic co-operation of the followings.

As a result of discussion regarding the setting up of Biscuit Factory in Myanmar, the parties understand that:-

(1) Parts B will provide required raw materials and machinery on credit.
(2) Debts for above requirements will be settled by means of paying back by Parts A to Parts B
(3) Both parties will undertake mutually agreed anything in a timely and mutually beneficial manner.
(4) Both Parties will exchange necessary information.

3.This MOU shall be followed by Contracts or any other Agreements which shall be made within 12 months from the date of signing of this MOU.

4.If either party desires to terminate this MOU, it shall give prior notice.

5.At the end of twelve months from the date of signing this MOU which is the effective date of MOU, parties shall have the option to extend this MOU through mutual concurrence.

Signed on the 2nd day of December 1998

U Zaw Win
Managing Director
Myanbisco Food Industries Co., LTD.

Mr Eddy Mustafa
Managing director
Bengkel Las & Bubut "Sinar"

( Zin Win )
Managing Director
MYANBISCO Food Industries Co., Ltd.

BENGKEL LAS dan BUBUT
Sinar
JL. RAYA CILEMBER 319
TELP. (022) 6652797 - 6652798
CIMAHI-BANDUNG

# MYANBISCO FOOD INDUSTRIES CO., LTD.

မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒက်(စ်)ထရီး ကုမ္ပဏီ လီမိတက်

No.32, Shangone Street, Myenigone, Sanchaung Towship ,Yangon, Myanmar.
Phone : 95-1 (526091)

MYANBISCO FOOD INDUSTRIES CO., LTD
Date ..........
No ..........

Date : _ _ _ _ _ _ _

## ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်း

ကျင်းပသည့်နေ့ ။ ။ ၂၇-၁၂-၉၈
ကျင်းပသည့်အချိန် ။ ။ နံနက် (၉:၀၀) နာရီ
ကျင်းပသည့်နေရာ ။ ။ ကုမ္ပဏီရုံး အစည်းအဝေးခန်းမ၊

## အစည်းအဝေးတက်ရောက်သူများ

၁။ ဦးဇင်ဝင်း - အုပ်ချုပ်မှုဒါရိုက်တာ
၂။ ဦးသိန်းဝင်း - ဒါရိုက်တာ
၃။ ဦးစိုးလွင် - ဒါရိုက်တာ

## အစည်းအဝေးဆုံးဖြတ်ချက်

သဘာပတိအဖြစ်အုပ်ချုပ်မှုဒါရိုက်တာ ဦးဇင်ဝင်းမှ ဆောင်ရွက်၍ အစည်းအဝေးကို ကျင်းပပါသည်။

" Myanbisco Food Industries Co., Ltd " ပိုင် ရန်ကုန်တိုင်း၊ ရွှေပြည်သာမြို့နယ်၊ မြေကွက်အမှတ် (၁၀၉/၁၁၀) စက်မှုဇုံ (၃)ရှိ တန်ဘိုးငွေ ကျပ်သိန်း(၁၇၈.၃)တန် မြေကွက်ကို အစုရှယ်ယာအဖြစ်ထည့်ဝင်ဆောင်ရွက်ရန် ဒါရိုက်တာအဖွဲ့မှသဘောတူဆုံးဖြတ်ပြီး အစည်းအဝေးကို မွန်းလွဲပိုင်းတွင်ရုတ်သိမ်းလိုက်ပါသည်။

| | | |
|---|---|---|
| ဦးဇင်ဝင်း | ဦးသိန်းဝင်း | ဦးစိုးလွင် |
| အုပ်ချုပ်မှုဒါရိုက်တာ | ဒါရိုက်တာ | ဒါရိုက်တာ |
| ( Zin Win ) Managing Director MYANBISCO Food Industries Co., Ltd. | Director MYANBISCO Food Industries Co., Ltd. | Director MYANBISCO Food Industries Co., Ltd |

# YOMA BANK LTD.
## (MYENIGONE BRANCH.)

NO.267(A), PYAY ROAD, MYENIGONE,
SANCHAUNG TOWNSHIP, YANGON, UNION OF MYANMAR.
Tel: 510599, 511421, 513175, Fax: 511424

2nd, December, 1998.

To.

MYANBISCO FOOD INDUSTRIES CO., LTD.
NO.32, SHAN GONE STREET, MYENIGONE,
SANCHAUNG TOWNSHIP, YANGON.

Dear Sir,

We hereby certify that the balance standing at the CREDIT of the account of 937-01438 with YOMA BANK LIMITED ( Myenigone-branch) at the close of business on the 2/12/1998 was K (4,300,000.00). (Kyats - four million three hundred thousand - only ).................

YOMA BANK LTD (seal) Myenigone

Yours Faithfully,

( Deputy Manager )
Deputy Manager
YOMA BANK LTD.
Myenigone Branch.

( Manager )
Manager
YOMA BANK LTD.
Accounts Department.
Myenigone Branch.

SPECIAL ADHESIVE LABEL

TWO HUNDRED KYATS

# မြေငှားစာချုပ်

'27 JAN 1999

## မူရင်း

၁၉၉၉ ခုနှစ်၊ (မြေငှား) အမှတ်တွဲ အမှတ် ဂုယသ(စက်မှု)(၃) ၁/၉၉ အရ ထုတ်ပေးသည်။

ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၊ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန (နောင်တွင် "အငှားချထားသူ"ဟု ရည်ညွှန်းသည်။ "အငှားချထားသူ" ဆိုသည့်စကားရပ်တွင် မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာနနှင့် အဆိုပါဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။ )

နှင့် ရန်ကုန် မြို့နေ၊ ဦး ၏ သား/သမီး ဖြစ်သော ဦး/ဒေါ် MYANBISCO FOOD IND CO.,LTD ... အမျိုးသားမှတ်ပုံတင်အမှတ် (နောက်တွင် "အငှား စာချုပ်ရသူ" ဟု ရည်ညွှန်းသည်။ ) တို့၊ ၁၃၆၀ ခုနှစ်၊ ပြာသို လဆန်း/လပြည့်ကျော် ၁၁ ရက်နေ့၊ ၁၉၉၉ ခုနှစ်၊ ( ဇန်နဝါရီ လ ၂၇ ရက်) တွင် အောက်ပါအတိုင်း မြေငှားစာချုပ်–ချုပ်ဆိုကြသည်။

အငှား စာချုပ်သူက–နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့် လည်းကောင်း၊ နောက်တွင် ပါရှိသော ပဋိညာဉ်ခံချက်များကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက်အားလုံးကိုထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်–ထွက် သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တကွအငှားချထားသူက အငှားစာချုပ်ရသူအား၊ ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ်မြေအောက်ရှိ သတ္တုတွင်းများ၊ ဓာတ်သတ္တုပစ္စည်းများ၊ ရှေးမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကွာရီ (Quarries) စသည်တို့သည်ဤစာချုပ်ဖြင့် အငှားချထားခြင်း၌ မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်ရယူ၊ သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကိုနှောက်ယှက်ပျက်စီးစေခဲ့လျှင်၊ အငှားစာချုပ်ရသူအား သင့်တော်သော လျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းဖြစ်ပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်း အက်ဥပဒေ၏ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့်အညီပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ ဆောက်လုပ်ရေးဝန်ကြီးဌာန မြို့ရွာနှင့် အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ ညွှန်ကြားရေးမှူးချုပ်က ဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ်–ချုပ်ဆိုသည့် ၂၇. ၁. ၉၉ နေ့မှစ၍ နှစ်ပေါင်း ခြောက်ဆယ်ကာလ အပိုင်းအခြားအတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါမြေကွက်ကို အငှားချထားသည်။

နှစ်ပေါင်း ခြောက်ဆယ် မြေငှားစာချုပ် ကာလအပိုင်းအခြားတွင် ၂၀၅၉ ခုနှစ် ဇန်နဝါရီ လ ၂၆ ရက်နေ့၌၊ကုန်ဆုံးသည့် ပထမ တစ်ဆယ့်ငါးနှစ်အတွင်းတွင် ကျပ် ၃၈၁၃၆.၁ ပြား - ( [illegible] ) တိတိကို ဇန်နဝါရီလ ၁–ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇန်နဝါရီလ ၁–ရက်နေ့တွင် လည်းကောင်း ၊ ဧပြီလ ၁–ရက်နေ့မှ စသည့် သုံးလပတ် အတွက် ဧပြီ ၁–ရက်နေ့တွင် လည်းကောင်း ၊ ဇူလိုင်လ ၁–ရက်နေ့မှ စသည့် သုံးလပတ်အတွက် ဇူလိုင်လ ၁–ရက်နေ့တွင် လည်းကောင်း၊ အောက်တိုဘာလ ၁–ရက်နေ့မှစသည့် သုံးလပတ်အတွက် အောက်တိုဘာလ ၁–ရက်နေ့တွင်လည်းကောင်း ကြိုတင်ပေးဆောင်ရမည်။ အဆိုပါနှစ်ခြောက်ဆယ်ကာလအပိုင်းအခြား၏ ဒုတိယတဆယ့်ငါးနှစ်နှင့်တတိယတစ်ဆယ့်ငါးနှစ်၊စတုတ္ထတစ်ဆယ့်ငါးနှစ်အတွက်အပိုဒ်၃–တွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့်မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင်ရမည်။

စက်မှုဇုန်များ စီမံခန့်ခွဲရေး
ညွှန်ကြားရေးမှူး ...အမှတ် ၁/၉၇ကို
လက်ခံရရှိပြီ။

27 JAN 1999

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက်ပြုလုပ်သည်။

(က) အပိုဒ် ၂–အရ၊ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိ သင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားဂရန် ရသူ၏ နောက်ဆုံး သိရှိရသော လိပ်စာတပ်ပြီး ရေစစ်တြေပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသောနေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါ နို့တစ်စာကိုပြဆိုသည့်နည်းလမ်းအတိုင်းပို့ခြင်း၊ ကပ်ထားခြင်း ပြုလုပ်ပြီးနောက် ရက်ပေါင်း ခြောက်ဆယ်အတွင်း အငှားစာချုပ် ရသူက အဆိုပါ ညွှန်ကြားရေးမှူးချုပ်အား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည် အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူက ကုန်ကျသောစရိတ် အားလုံးနှင့်တကွ အဆိုပါ ညွှန်ကြားရေးမှူးချုပ်သို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကို ပပျောက်စေရန် အဆိုပါ ညွှန်ကြားရေးမှူးချုပ် ကျေနပ်လောက်အောင် ဆောင်ရွက်လျှင် လည်းကောင်း အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား၏ ကျန်ရှိနေသေးသော ကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည် သိမ်းယူသည့်အချိန်တွင် ထိုမြေကွက်ပေါ်၌တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိ ထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်။ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြား အကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူ သည့်အခါက ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၏ အမှုထမ်းများသို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်ဆီးပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတစ်ပါး အဆိုပါမြေကွက် ပေါ်တွင် ဖြစ်စေ၊ အထဲတွင်ဖြစ်စေ တည်ရှိသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏ တန်ဖိုးယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်ဆီးယိုယွင်းခြင်းအတွက်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရဆောက်လုပ်ရေးဝန်ကြီးဌာန၊မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန၌ တာဝန်မရှိစေရန်။

(ခ) အပိုဒ် ၂–အရ၊ ဤစာချုပ်ကိုပယ်ဖျက်ပြီး မဟုတ်လျှင်လည်းကောင်း၊ အငှားစာချုပ်ရသူကနှစ်ပေါင်းခြောက်ဆယ် ကာလအပိုင်းအခြား ကုန်ဆုံးသည့်အထိ အဆိုပါမြေငှားခကိုပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါမိမိပြုလုပ်သည့် ပဋိညာဉ်ခံ ချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်လည်းကောင်း အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ် ထားသောအဆောက်အအုံများ၊ ထိုအဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြားမကုန် မီ ခြောက်လအတွင်း ဖျက်သိမ်းသယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့ သယ်ယူခြင်းကြောင့် အဆိုပါမြေကွက်ပျက်စီးယိုယွင်းခဲ့ လျှင် ထိုမြေကွက်ကိုမူလအခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ( ၂၀၁၄ ) ခုနှစ်၊ ဇန်နဝါရီ လ၊ ( ၂၆ )ရက်နေ့မှစ၍ ပထမတဆယ့်ငါးနှစ် ကုန်ဆုံးသည့် အခါ ဒုတိယတဆယ့်ငါးနှစ်အတွက် ရန်ကုန်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄–အရ စည်းကြပ်သော သုံးလပတ်မြေငှားခကို လည်းကောင်း၊ ဒုတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ တတိယတဆယ့်ငါးနှစ်အတွက် အဆိုပါ နည်းဥပဒေ ၂၄–အရ စည်းကြပ်သော သုံးလပတ်မြေငှားခကိုလည်းကောင်း၊ တတိယတဆယ့်ငါးနှစ်ကုန်ဆုံးသည့်အခါ စတုတ္ထတဆယ့်ငါးနှစ်အတွက် အဆိုပါနည်းဥပဒေ ၂၄–အရ စည်းကြပ်သောသုံးလပတ်မြေငှားခကိုလည်းကောင်း အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်။ အကယ်၍ အထက်ပါနည်းလမ်းအတိုင်း မြေငှားခကိုပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင်ပြဋ္ဌာန်းထားသည့်နည်းလမ်းအတိုင်း မြေငှားခကိုပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲသုံးလပတ်မြေငှားခကို ဆက်လက်ပေး ဆောင်ရန်။

(ဃ) ဤစာချုပ်ပါအခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင်ပါရှိစေကာမူ ဤစာချုပ် ချုပ်ဆိုသည့်နေ့မှစ၍ ပထမနှစ်ပေါင်းသုံးဆယ်အတွင်းသတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောမြေငှားခကို ပြေလည်အောင် ပေး ဆောင်ခဲ့သောကြောင့် လည်းကောင်း၊ ပြုလုပ်ထားသည့်ပဋိညာဉ်ခံချက်များကို မပျက်မကွက်လိုက်နာဆောင်ရွက်ခဲ့သောကြောင့် လည်းကောင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သောသုံးလပတ် မြေငှားခဖြင့်နောက်ထပ် နှစ်ပေါင်း သုံးဆယ်အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်း မြေငှားစာချုပ် အသစ် ချုပ်ဆိုရန် သဘောတူကြောင်း အဆိုပါ ပထမ နှစ်ပေါင်းသုံးဆယ်မပြည့်မီ အနည်းဆုံးခြောက်လကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့် အကြောင်းကြား ရမည်။ အကြောင်းကြားစာနှင့်အကူပထမမြေငှားစာချုပ်ကိုပေးအပ်လျှင် ထိုအကြောင်းကြားစာရရှိသည့်နေ့မှခြောက်လ အတွင်းနောင် နှစ်ပေါင်းသုံးဆယ်အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့်ဖြစ်နိုင်သမျှ တူညီသည့် ပဋိညာဉ် ခံချက်များပါရှိသည့် မြေငှားစာချုပ် အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူကထုတ်ပေးရန်။ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပတ်မြေငှားခကို အငှားစာချုပ်ရသူကပေးဆောင်ရန်။

# သင်းဖွဲ့မှတ်တမ်း

နှင့်

# သင်းဖွဲ့စည်းမျဉ်းများ

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း

နှင့်

သင်းဖွဲ့စည်းမျဉ်းများ

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

*AND*

# Articles Of Association

*OF*

# MYANBISCO FOOD INDUSTRIES COMPANY LIMITED

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ကုမ္ပဏီ၏အမည်သည် " မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီ လီမိတက် " ဖြစ်ပါသည်။

၂။ ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

၃။ ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

၄။ အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းသည် ကျပ် ၅၀၀,၀၀၀,၀၀၀ /- (ကျပ် သန်းငါးရာတိတိ) ဖြစ်၍ ငွေကျပ် ၁၀,၀၀၀ /- (ကျပ် တစ်သောင်းတိတိ) တန် အစုရှယ်ယာပေါင်း ( ၅၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

(၁) နိုင်ငံတော်**အစိုးရက** ခွင့်ပြုထားသော အောက်ဖော်ပြပါ ကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ပြုပြင်ခြင်း စသည့်လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင်ရန်။

~~(က) လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေတွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ထုပ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း၊~~

~~(ခ) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်းနှင့် အသားသေစေခြင်း၊~~

~~(ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း၊~~

(ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင် ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း၊

~~(င) တက်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများ ထုတ်လုပ်ခြင်း၊~~

~~(စ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

~~(ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

(ဇ) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း၊

~~(ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း၊~~

~~(ည) ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများ ထုတ်လုပ်ခြင်း၊~~

~~(ဋ) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

~~(ဌ) လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း၊~~

~~(ဍ) ဆေးဝါးထုတ်လုပ်ခြင်း၊~~

(ဎ) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း၊

(၂) အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်နှင့် ထွက်ရှိလာသောကုန်ချောများ၊တစ်စိတ်တစ်ဒေသ ကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကား ရောင်းချရန်။

(၃) ဆောက်လုပ်ရေးလုပ်ငန်းများကို လုပ်ကိုင်ရန်နှင့် ယင်းလုပ်ငန်းအတွက် လိုအပ်သော စက်ပစ္စည်းများ၊ အပိုပစ္စည်းများနှင့် အခြားဆောက်လုပ်ရေးပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်။

(၄) ကုမ္ပဏီမှ သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

ခြွင်းချက်။ ။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့်လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကိုလုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌အချိန်ကာလအားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

* စားသောက်ကုန်လုပ်ငန်း ထုတ်လုပ်ခြင်း

အောက်တွင် အမည်၊ နိုင်ငံသား နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူတို့ကို ကိုယ်စားကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခု ဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့အား ဤအမည်နှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ ပတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးဇင်ဝင်း<br>အမှတ် (၃၂)၊ ရှမ်းကုန်းလမ်း၊ ပြေနိုကုန်း၊<br>စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>အိပ်ချ်/အာရ်ဂျီအင်န်<br>၀၀၃၂၁၅ | ၁၀ | |
| ၂။ | ဦးသိန်းဝင်း<br>အမှတ် (၃၂)၊ ရှမ်းကုန်းလမ်း၊ ပြေနိုကုန်း၊<br>စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>အိပ်ချ်/အာရ်ဂျီအင်န်<br>၀၀၃၂၁၆ | ၁၀ | |
| ၃ | ဦးကိုးလွင်<br>အမှတ် (၁၅၄)၊ ဘားကရာလမ်း၊ စမ်းချောင်း(မြောက်)<br>စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>အင်န်ဘီအင်န်<br>၁၀၄၉၄၀ | ၁၀ | ကိုးလွင် |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၈ ခုနှစ်၊ ဩဂုတ်လ၊ ၅ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

U KYI THEIN LL.B
ADVOCATE (Reg: No-3000
No.97(A), Thudathana 2nd st
Thingangyun T/S. Yangon

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# မြန်ဘစ်(စ်)ကို ဖု(ဒ်) အင်ဒတ်(စ်)ထရီး ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ

❖ ❖ ❖ ❖ ❖ ❖ ❖

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့်သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇ (၂) တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒိဘင်ချာ သို့မဟုတ် ဒိဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်းမှာ ကျပ် ၅၀၀,၀၀၀,၀၀၀ /- (ကျပ် သန်းငါးရာတိတိ) ဖြစ်၍ ငွေကျပ် ၁၀,၀၀၀ /- (ကျပ် တစ်သောင်းတိတိ) တန် အစုရှယ်ယာပေါင်း ( ၅၀၀၀၀ )ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များက လက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏ တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံအထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍ သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင်ကိုယ်စားလှယ်ကို ဒါရိုက်တာများက အသိအမှတ်ပြုပေးရမည် ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကို အခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်းအတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ် အစည်းအဝေးက တစ်စုံတစ်ရာ သတ်မှတ်ပြဌာန်းမှု မပြုလုပ်သမျှ ဒါရိုက်တာများ၏ အရေအတွက်သည် ( ၂ ) ဦး ထက်မနည်း၊ ( ၉ ) ဦးထက်မများစေရ။

ပထမဒါရိုက်တာများသည်-

(၁) ဦးဇင်ဝင်း

(၂) ဦးသိန်းဝင်း

(၃) ဦးစိုးလွင် တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည် ၎င်းတို့အနက်မှ တစ်ဦးကို မန်နေဂျင်းဒါရိုက်တာအဖြစ် အချိန်အခါအလိုက် သင့်လျော်သော သတ်မှတ်ချက်များ၊ ဉာဏ်ပူဇော်ခများဖြင့် ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများ အားလုံးကို ၎င်းက အသုံးပြုနိုင်သည်။

၉။ ဒါရိုက်တာတစ်ဦးဖြစ်မြောက်ရန် လိုအပ်သော အရည်အချင်းသည် ကုမ္ပဏီ၏ အစုရှယ်ယာ အနည်းဆုံး ( ၁၀ ) စုကို ပိုင်ဆိုင်ခြင်းဖြစ်၍ ၎င်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၅ ပါ ပြဌာန်းချက်များကို လိုက်နာရန် တာဝန်ရှိသည်။

၁၀။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၁။ ဒါရိုက်တာများသည် ၎င်းတို့သင့်လျော်သည် ထင်မြင်သည့်အတိုင်း လုပ်ငန်းဆောင်ရွက်ရန် တွေ့ဆုံဆွေးနွေးခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အချိန်မှန် စည်းဝေးခြင်း၊ အစည်းအဝေးထမြောက်ရန် အနည်းဆုံး ဒါရိုက်တာဦးရေသတ်မှတ်ခြင်းတို့ကို ဆောင်ရွက်နိုင်သည်။ ယင်းသို့ မသတ်မှတ်ပါက ဒါရိုက်တာနှစ်ဦး တက်ရောက်လျှင် အစည်းအဝေး အထမြောက်ရမည်။ အစည်းအဝေးတွင် မည်သည့်ပြဿနာမဆို ပေါ်ပေါက်ပါက မန်နေဂျင်း ဒါရိုက်တာ၏ အဆုံးအဖြတ်သည် အတည်ဖြစ်ရမည်။ မည်သည့်ကိစ္စများကိုမဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက်တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၂။ ဒါရိုက်တာများ၏ အစည်းအဝေးကို မည်သည့်ဒါရိုက်တာကမဆို အချိန်မရွေး ခေါ်နိုင်သည်။

၁၃။ ဒါရိုက်တာ အားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးက အတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံး အတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ နောက်ဆက်တွဲ ဇယားပုံစံ (က)ပါ စည်းမျဉ်းအပိုဒ် ၇၁ တွင် ပေးအပ်ထားသော အထွေထွေ အာဏာများကို မထိခိုက်စေဘဲဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ-

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီက ရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့် ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သော စည်းကမ်းချက်များ သတ်မှတ်၍ ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း၊ သို့မဟုတ် အခြား နည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကို ပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်း သတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန် သို့မဟုတ် အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည် ပေးဆပ်ရန်အတွက် အာမခံများ ထားရှိရန်အပြင်၊ အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့(ခ်)များ၊ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ သို့မဟုတ် ဝန်ဆောင်မှုများအတွက် အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ငွေကြေးအားဖြင့် ပေးချေရန်၊ သို့မဟုတ် အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ၊ သို့မဟုတ် ဤကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန်၊ ထို့အပြင် အဆိုပါ အစုရှယ်ယာများ ထုတ်ပေးရာ၌ ငွေအပြည့် ပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့် သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသ ပေးသွင်းပြီးသော အစုရှယ်ယာများ အနေဖြင့် သော်လည်းကောင်း သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ သို့မဟုတ် ကုမ္ပဏီ၏ အခြားသော အာမခံစာချုပ်များဖြင့် ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ၊ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့် လုပ်ငန်းများ ပြီးစီးအောင် ဆောင်ရွက်စေခြင်း အလို့ငှာ ခေါ်ယူခြင်း မပြုရသေးသော ရင်းနှီးငွေများ အပါအဝင် ဤကုမ္ပဏီ၏ ပစ္စည်းရပ်များ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသကို ပေါင်နှံ၍ သော်လည်းကောင်း၊ အပေါင်ပြု၍ သော်လည်းကောင်း သို့မဟုတ် အစုရှယ်ယာများအတွက် ငွေများ တောင်းခံခေါ်ယူ၍ သော်လည်းကောင်း ခွင့်ပြုရန် သို့မဟုတ် သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့်ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ သို့မဟုတ် အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက် လည်းကောင်း၊ အဆိုပါ ပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌ လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌ လည်းကောင်း သင့်လျော်သလို ဆောင်ရွက်ရန်၊ ထို့အပြင် အဆိုပါ ကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့် အရာရှိကိုမဆို ကိစ္စရပ် အားလုံးကို ဖြစ်စေ၊ တစ်စိတ်တစ်ဒေသကို ဖြစ်စေ ဒါရိုက်တာများ၏ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့် တွဲဖက်၍ မန်နေဂျင်း ဒါရိုက်တာ၊ အထွေထွေ မန်နေဂျာ၊ အတွင်းရေးမှူး သို့မဟုတ် ဌာနခွဲ မန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့် အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများ အားလုံးကို ဖြစ်စေ၊ အချို့အဝက်ကို ဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသော စည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့် ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါ ယုံမှတ် အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆို ပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့် စပ်လျဉ်း၍ ဤကုမ္ပဏီက ပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီအပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိများအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆို ဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေးယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ် တောင်းခံသော ကြွေးမြီများနှင့် ပတ်သက်၍ ပေးဆပ်ရန် အချိန်ကာလ ရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက် သဘောတူ ကျေအေးခြင်းများ ပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေး ခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီက ရရန်ရှိသော တောင်းဆိုချက်၊ တောင်းခံချက်များနှင့် ကုမ္ပဏီသို့ ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများ ပြုလုပ် ထုတ်ပေးခြင်း၊ လျှော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီ မဆပ်နိုင်ခြင်း ကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စား ဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့် လက်မှတ်ရေးထိုးခြင်းများ၊လျှော်ပစ်ခြင်းများ၊ ကန်ထရိုက် စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စား မည်သူက လက်မှတ်ရေးထိုးခွင့်ရှိသည်ကို စိစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆပါက သင့်လျော် လျောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင် ငွေများကို အာမခံပစ္စည်း ပါသည်ဖြစ်စေ၊ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်။ ထို့ပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသောငွေကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွှဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေး စိုက်ထုတ် ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြားပုဂ္ဂိုလ်များက ကုမ္ပဏီ၏ (လက်ရှိနှင့် နောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟု ယူဆပါက ဆောင်ရွက်ခွင့်ပြုရန်။ အဆိုပါ ပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင် သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်များပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သည့်လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသော အမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ၏ အထွေထွေ အမြတ်အစွန်းမှ ခွဲဝေပေးခြင်းများ ပြုလုပ်ရန်နှင့် အဆိုပါ ကော်မရှင်များ၊ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏ လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ် သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏ လုပ်ငန်းများ၊ အရာရှိများ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်းများ၊ စည်းကမ်းချက်များ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများ ဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏ လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ၊ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ လိုအပ်သည်ဟု ယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ် ချုပ်ဆိုခြင်းများကို ပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန် အပြင် အဆိုပါ ဆောင်ရွက်ချက် စာချုပ်များနှင့် ကိစ္စရပ်များကို လည်းကောင်း၊ ၎င်းတို့နှင့် စပ်လျဉ်းသော ကိစ္စရပ်များကို လည်းကောင်း လုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပြည်တွင်းပြည်ပ ပုဂ္ဂိုလ်၊ စီးပွားရေး အဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှ မဆို ငွေချေးယူရန်။

## အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှ တစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကိုကျင်းပရမည်။ ထို့နောက် ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့် အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ် (နောက်ဆုံးကျင်းပသည့် အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက် မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ် အစည်းအဝေးစတင်၍ လုပ်ငန်းအတွက် ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်သည့် အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ် အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့် ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင်အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်း မရှိလျှင် ထုတ်ဝေထားသည့် မ,တည် ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်ဘိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေ ဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင်အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့် ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေး အထမြောက်ရန် သတ်မှတ်သည့် အရေအတွက် ဖြစ်စေရမည်။

## အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအား ခွဲဝေပေးမည့် အမြတ်ဝေစုကို ကြေညာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

## ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကို ဖွင့်လှစ်၍ ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်း ပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်း ပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့် အခကြေးငွေများကို ဒါရိုက်တာအဖွဲ့က သတ်မှတ်မည်ဖြစ်ပြီး ၎င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ် အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး မန်နေဂျင်း ဒါရိုက်တာအားတာဝန်ခံ၍ ဆောင်ရွက်ရမည်။

## ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ ပမာဏနှင့် ၎င်းရငွေ၊ သုံးငွေများ ဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စများ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင် သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများက စစ်ဆေးနိုင်ရန် ပြသထားရမည်။

## စာရင်းစစ်

၂၀။ စာရင်းစစ်များကို ခန့်အပ်ထားရမည်။ ၎င်းစာရင်းစစ်များ၏ တာဝန်သည် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေ ဖြစ်ရမည်။

**နို့တစ်စာ**

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသော စာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူ ပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်သည်။

**တံဆိပ်**

၂၂။ ဒါရိုက်တာများသည် တံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများကကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတစ်ပါး၊ ထို့အပြင် အနည်းဆုံး ဒါရိုက်တာတစ်ဦး ရှေ့မှောက်တွင်မှ တစ်ပါး မည်သည့်အခါမျှ မသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

**လျော်ကြေး**

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၈၆ (ဂ) တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ၊ လက်ရှိတရားဝင်တည်ဆဲဥပဒေပြဋ္ဌာန်းချက်များနှင့် မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှာ မိမိ၏ တာဝန် ဝတ္တရားများကို ဆောင်ရွက်ရာ၌ဖြစ်စေ၊ ထိုတာဝန် ဝတ္တရားများနှင့် စပ်လျဉ်း၍ဖြစ်စေ ကျခံခဲ့ရသည့်စရိတ်များ၊ တောင်းခံငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှ လျော်ကြေး ရထိုက်ခွင့်ရှိစေရမည်။

**ဖျက်သိမ်းခြင်း**

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေး ဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအား ဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင် ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

❖ ❖ ❖ ❖ ❖ ❖ ❖

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခု ဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | ဦးဇင်ဇင်း<br>အမှတ် (၃၂)၊ ရှမ်းကုန်းလမ်း၊ မြေနီကုန်း၊<br>စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>အိပ်ချ်/အာရ်ဂျီအင်န်<br>၀၀၃၂၁၅ | ၁၀ | (လက်မှတ်) |
| ၂။ | ဦးသိန်းဝင်း<br>အမှတ် (၃၂)၊ ရှမ်းကုန်းလမ်း၊ မြေနီကုန်း၊<br>စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>အိပ်ချ်/အာရ်ဂျီအင်န်<br>၀၀၃၂၁၆ | ၁၀ | (လက်မှတ်) |
| ၃။ | ဦးစိုးလွင်<br>အမှတ် (၁၅၄)၊ ဗားကရာလမ်း၊ စမ်းချောင်း(မြောက်)<br>စမ်းချောင်းမြို့နယ်၊ ရန်ကုန်မြို့။<br>(ကုန်သည်) | မြန်မာ<br>အင်န်ဘီအင်န်<br>၁၀၄၉၄၀ | ၁၀ | (လက်မှတ်) |

ရန်ကုန်။ နေ့စွဲ၊ ၁၉၉၈ ခုနှစ်၊ ဩဂုတ်လ၊ ၅ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

(လက်မှတ်)

U KYI THEIN LL.B
ADVOCATE (Reg: No-300
No.37(A), Thudathana 2nd St.
Thingangyun T/S. Yangon

FORM XXVI

PARTICULARS OF DIRECTORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : MYANBISCO FOOD INDUSTRIES COMPANY LIMITED

Presented by : U ZIN WIN

| The present christian name or names of surnames | Nationality, National Registration Card No. | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| 1. U Zin Win | Myanmar H/RGN.003215 | No.32, Shangone Street, Myenigone Sanchaung Township, Yangon. | Merchant | |
| 2. U Thein Win | Myanmar H/RGN.003216 | No.32, Shangone Street, Myenigone Sanchaung Township, Yangon. | Merchant | |
| 3. U Soe Lwin | Myanmar MBN. 104940 | No.154, Bargayar Street,(North) Sanchaung, Sanchaung Township, Yangon. | Merchant | |

NOTE : (1) A complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for "Changes"by placing against the new Director's name the word "in place of ................................" and by writing against any former Director's name the word "dead" "resigned"or as the case may be giving the date of change against the entry.

Dated this ... ... 3 ... ... August,1998

Signature

Designation U ZIN WIN (DIRECTOR)